


# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## ခွင့်ပြုမိန့်



ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၆၁ / ၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ် လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏ အမည်** ဦးအောင်မျိုးမင်းဒင်

(ခ) **အဘ အမည်** ဦးမင်းဒင်(ခ)ဦးလှဖေသန်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂ / ကမရ (နိုင်) ဝ၂၈၀၂၂

(ဃ) **နေရပ်လိပ်စာ** အမှတ်(၂၉)၊ မင်းရဲကျော်စွာလမ်း၊ ကကခ(၁)၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** ADVENTURE MYANMAR TOURS & INCENTIVES COMPANY LIMITED (အက်(ဒ်)ဗင်းချားမြန်မာတိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** B.O.T စနစ်ဖြင့် ကြယ်လေးပွင့်ဟိုတယ်၊ Office & Service Apartment(၁)လုံး နှင့် Apartment(၃)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက် အမှတ်(၂၀ အေ၊ ၄၆-ဘီ)၊ မြေကွက်အမှတ်( ၈-A/၁ ၊ ၂-A၂/၄) ၊ စိန်ဂျွန်းအုပ်စု သို့လျှောင်ရုံဝင်းရှိ မြေဧရိယာ(၄.၉၈)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၆၂၄၀၀.၀၀ သန်း( အမေရိကန်ဒေါ်လာ ၃၆.၉၄ သန်း အပါအဝင် စုစုပေါင်း ကျပ် ခြောက်သောင်းနှစ်ထောင့်လေးရာသန်း တိတိ )

(ဈ) **တည်ဆောက်မှုကာလ** ၆ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

26/2

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်



၆၂

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
### အမိန့်ကြော်ငြာစာအမှတ်၊ ၄၉ /၂၀၁၆ (မနသ)
### ၂၀၁၆ ခုနှစ် မတ် လ ၂၆ ရက်

၁။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်) အင်စမ်းတစ်(စ်) ကုမ္ပဏီလီမိတက်)သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့်အိမ်ရာ ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်း ရပ်ကွက်အမှတ်(၂၀ အေ၊ ၄၆-ဘီ)၊ မြေကွက်အမှတ်( ၈-A/၁ ၊ ၂-A^၂/၄) ၊ စိန်ဂွန်းအုပ်စု သိုလှောင်ရုံဝင်းရှိ မြေဧရိယာ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် ကြယ်လေးပွင့် ဟိုတယ်၊ Office & Service Apartment(၁)လုံး နှင့် Apartment(၃)လုံး တည်ဆောက်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဦးအောင်မျိုးမင်းဒင်မှ ဆောက်လုပ်ရေးဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ် လ ၁၈ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၁၀/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချားမြန်မာတိုး(စ်)အင်(န်)အင်စမ်း တစ်(စ်)ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် ကြယ်လေးပွင့် ဟိုတယ်၊ အထပ်(၁၂)ထပ်ပါ Office & Service Apartment (၁)လုံး နှင့် Apartment(၃)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၆၁/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်) ဗင်းချားမြန်မာတိုး (စ်)အင်(န်) အင်စမ်းတစ်(စ်) ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်-

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ၂၀(ဂ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း

ကန့်သတ်

အမှန် တကယ်အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန် အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

**ကန့်သတ်**

၄။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချားမြန်မာတိုး (စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင် ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်) ဗင်းချားမြန်မာတိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေ ငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦးနှစ် (၅၀)နှင့် သက်တမ်းတိုး မြှင့်မည့်ကာလမှာ (၁၀)နှစ် သက်တမ်း(၂)ကြိမ်ဖြစ်သည်။ ထိုသို့ စာချုပ် သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည် ဖြစ်သည်။

၇။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်) အင်စမ်းတစ်(စ်) ကုမ္ပဏီလီမိတက်)သည် မြေအသုံးချမှုပရီမီယံကြေး အဖြစ် မြေဧရိယာ တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၂.၀၀ သန်းနှုန်းဖြင့် မြေဧရိယာ ၄.၉၈ ဧက အတွက် စုစုပေါင်း အမေရိကန်ဒေါ်လာ ၉.၉၆ သန်း အား အောက်ပါအတိုင်း ၄ ကြိမ်ခွဲ၍ ပေးသွင်း ရမည် -

(က) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား စာချုပ်လက်မှတ်ရေးထိုးပြီး ၁၈ လ အတွင်း

(ခ) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၈ လ အတွင်း

(ဂ) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၁၆ လ အတွင်း

(ဃ) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၂၄ လ အတွင်း

၈။ နှစ်စဉ် မြေငှားရမ်းခအား ၁ နှစ်လျှင် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၅ နှုန်း ဖြင့် စုစုပေါင်းကြမ်းခင်းဧရိယာ၏ ၆၅ % ကို ငှားရမ်းနိုင်သော ဧရိယာအဖြစ် သတ်မှတ်၍ ပေးချေရမည်။

၉။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနနှင့် Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်) အင်စမ်းတစ်(စ်) ကုမ္ပဏီလီမိတက်) တို့ B.O.T

စနစ်ဖြင့် မြေ ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဥ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၁။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချားမြန်မာတိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် လုပ်ငန်း ဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဥ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦအတွက် အမှန်တကယ် လိုအပ်သော ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပမှ တင်သွင်းသည့်အခါ ပစ္စည်းအမျိုးအစားနှင့် အရေအတွက်ကို BQ တွင် ဖော်ပြထားသည့်အတိုင်း မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၃။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချားမြန်မာတိုး(စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA )၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဥ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်း ဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၄။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချားမြန်မာ တိုး(စ်)အင်(န်) အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉(ဂ)ပါ သတ်မှတ်ချက်နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန ၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

ကန့်သတ်

၁၅။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချား မြန်မာတိုး(စ်) အင်(န်) အင်စမ်းတစ်(စ်) ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၆။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချားမြန်မာတိုး (စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချားမြန်မာတိုး (စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်) သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၉။ Adventure Myanmar Tours & Incentives Company Limited (အက်(ဒ်)ဗင်းချားမြန်မာတိုး (စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာဆောင်ရွက်ရမည်။

၂၀။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှပိုင်ဆိုင်ခြင်း

သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၁။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄ /မ-၁၅၄၀/၂၀၁၆( ၄၉၀-၈ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

ဖြန့်ဝေခြင်း-

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ(YCDC)

အထပ်အမြင့် အဆောက်အအုံ တည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ် စစ်ဆေးရေး ကော်မတီ (CQHP)

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း(MES)

မန်နေဂျင်းဒါရိုက်တာ၊ Adventure Myanmar Tours & Incentives Company Limited
(အက်(ဒ်)ဗင်းချားမြန်မာတိုး (စ်)အင်(န်)အင်စမ်းတစ်(စ်)ကုမ္ပဏီလီမိတက်)

| ဆုံးဖြတ်ချက်များ | | ဆောင်ရွက်ရန် |
|---|---|---|
| | အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား ဆောင်ရွက် ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်နှင့် ဆိပ်ခံတံတားတည်ဆောက်ခြင်းအတွက် ပို့ဆောင် ရေးဝန်ကြီးဌာနမှ Integrated Plan တင်ပြရန်။ | |
| (ဈ) | Kyaw Htet Kyaw Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်တွင် စိုက်ပျိုးရေးအခြေခံ ဘက်စုံစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဆိုင်ရာ လုပ်ငန်းများကို ဆောင်ရွက်ခွင့်ပြုရန်၊ ခွင့်ပြုမိန့်ထုတ်ပေးရန်နှင့် ပုဂ္ဂလိကအမည် ပေါက်နေသော မြေဧရိယာ ၂.၇၇၉ ဧက အတွက် မြေပိုင်ဆိုင်မှုကိစ္စကို ပြီးပြတ်အောင် ဆောင်ရွက်ရန် ။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ည) | Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ လက်ရှိ ကလောဟိုတယ်အား အဆင့်မြှင့် ပြန်လည် မွမ်းမံပြင်ဆင်ခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ဋ) | Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာတွင် BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ဌ) | Htoo Trading Co., Ltd.မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊မြပြင်ကျေးရွာ၊ ကွင်းအမှတ်(VT-၄၀)၊ မြေဧရိယာ ၆၃.၀၅ ဧကအနက် မြေဧရိယာ ၅.၅၄ ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ဍ) | Adventure Myanmar Tours & incentives Co., Ltd.မှ ဆောက်လုပ်ရေး ဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂ္ဂန်းအုပ်စု သိုလှောင်ရုံရှိ မြေ(၁၁.၆၆၃)ဧကအနက်မှ မြေ(၄.၉၈) ဧကတွင် Hotel, Service Apartment, Office Tower, Apartment ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၂၀၁၆ ခုနှစ်၊မတ်လ (၁၈) ရက်၊ နံနက် ၉:၀၀ နာရီတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၀/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးမှတ်တမ်း

အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးသို့ တက်ရောက်ကြပါသည် -

ဦးဇေယျာအောင် — ဥက္ကဋ္ဌ
ပြည်ထောင်စုဝန်ကြီး
စွမ်းအင်ဝန်ကြီးဌာန

ဦးဌေးအောင် — ဒုတိယဥက္ကဋ္ဌ
ပြည်ထောင်စုဝန်ကြီး
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ဗိုလ်မှူးချုပ်ကျော်ဇံမြင့် — အဖွဲ့ဝင်
ဒုတိယဝန်ကြီး
ပြည်ထဲရေးဝန်ကြီးဌာန

ဒေါက်တာမောင်မောင်သိမ်း — အဖွဲ့ဝင်
ဒုတိယဝန်ကြီး
ဘဏ္ဍာရေးဝန်ကြီးဌာန

သူရဦးသောင်းလွင် — အဖွဲ့ဝင်
ဒုတိယဝန်ကြီး(အငြိမ်းစား)

ဒေါက်တာအောင်ထွန်းသက် — အဖွဲ့ဝင်
စီးပွားရေးပညာရှင်

ဦးညွန့်တင် — အဖွဲ့ဝင်
သံအမတ်ကြီး(အငြိမ်းစား)

ဦးဝင်းခိုင် — အဖွဲ့ဝင်
ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

ကန့်သတ်

ဒေါ်ခိုင်ခိုင်နွယ် အဖွဲ့ဝင်
စီးပွားရေးလုပ်ငန်းရှင်

ဦးအောင်နိုင်ဦး အတွင်းရေးမှူး
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဒေါ်မြသူဇာ တွဲဖက်အတွင်းရေးမှူး
ဒုတိယညွှန်ကြားရေးမှူးချုပ်(အငြိမ်းစား)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဒေါ်တင်အေးဟန် မှတ်တမ်းတင်သူ
ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

**အစည်းအဝေးမတက်ရောက်သူများ(တာဝန်)**

ဦးဝင်းထွန်း အဖွဲ့ဝင်
ပြည်ထောင်စုဝန်ကြီး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒေါက်တာထွန်းရှင်
ပြည်ထောင်စုရှေ့နေချုပ်
ပြည်ထောင်စုရှေ့နေချုပ်ရုံး

**ကိုယ်စားလှယ်/ဘာသာရပ်/ကျွမ်းကျင်သူအဖြစ်တက်ရောက်သူများ**

ဦးကျော်ရွှေ
ညွှန်ကြားရေးမှူးချုပ်
စိုက်ပျိုးရေးဦးစီးဌာန
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

ဦးသန်းအောင်ကျော်
ဒုတိယညွှန်ကြားရေးမှူးချုပ်(၂)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဒုတိယဗိုလ်မှူးကြီးတိုးထွန်းမြင့်
လက်ထောက်စစ်ထောက်ချုပ်
ကာကွယ်ရေးစစ်ထောက်ချုပ်(ကြည်း)
စစ်ထောက်ချုပ်ရုံး

ဦးတင်ဇော်မြင့်
လက်ထောက်အတွင်းဝန်
စွမ်းအင်ဝန်ကြီးဌာန

ဦးလှသိန်း
ပြည်နယ်ဥပဒေချုပ်
ရခိုင်ပြည်နယ်အစိုးရအဖွဲ့

ဦးကျော်ဦး
အင်ဂျင်နီယာချုပ်
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ပို့ဆောင်ရေးဝန်ကြီးဌာန

ဦးမျိုးမြင့်
ညွှန်ကြားရေးမှူး
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ဦးလင်းကိုကို
ညွှန်ကြားရေးမှူး
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ဒေါက်တာခင်စောလှ
ညွှန်ကြားရေးမှူး
အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန
ကျန်းမာရေးဝန်ကြီးဌာန

ဦးတင်ကိုကို
ဌာနမှူး
ထုတ်လုပ်ရေးဌာန
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

ဦးစိုးလွင်
ဌာနမှူး
ညှိနှိုင်းဆောင်ရွက်ရေးဌာန
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

ဦးသိန်းအောင်
ဒုတိယညွှန်ကြားရေးမှူး
တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ဦးတင်ထွန်း
ဒုတိယညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒေါ်ယဉ်ယဉ်အောင်
လက်ထောက်ညွှန်ကြားရေးမှူး
မြန်မာ့ရေနံဓာတုဗေဒလုပ်ငန်း
စွမ်းအင်ဝန်ကြီးဌာန

ဦးလှမျိုး
အထွေထွေမန်နေဂျာ
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

ဦးအောင်နိုင်ဦး
အထွေထွေမန်နေဂျာ
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
စက်မှုဝန်ကြီးဌာန

ဦးစောအောင်
အထွေထွေမန်နေဂျာ
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း
စက်မှုဝန်ကြီးဌာန

ဦးမျိုးညွန့်အောင်
ဒုတိယစက်ရုံမှူး
အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း
စက်မှုဝန်ကြီးဌာန

ဦးအေးချိုသောင်း
ဒုတိယအထွေထွေမန်နေဂျာ
မြန်မာ့သစ်လုပ်ငန်း
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒေါ်ကြည်ဖြူမောင်
ဒုတိယအထွေထွေမန်နေဂျာ
မြန်မာ့ဆေးဝါးလုပ်ငန်း
စက်မှုဝန်ကြီးဌာန

ဦးမြင့်နိုင်
လက်ထောက်ညွှန်ကြားရေးမှူး
မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန ဆောက်လုပ်ရေးဝန်ကြီး

ဦးမြတ်မင်း
လက်ထောက်ဘူမိဗေဒအရာရှိ
အမှတ်(၁)သတ္တုတွင်းလုပ်ငန်း
သတ္တုတွင်းဝန်ကြီးဌာန

**၁။ ကော်မရှင်ဥက္ကဋ္ဌမှ အမှာစကားပြောကြားခြင်း**

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က အဖွင့်အနေဖြင့် အထူးပြောကြားရန်မရှိကြောင်းနှင့် အစည်းအဝေးအား ဆက်လက်ဆောင်ရွက်ရန်ဖြစ်ကြောင်း ပြောကြားပါသည်။

**၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးမှတ်တမ်းအား အတည်ပြုပေးပါရန် တင်ပြခြင်းကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်နေ့တွင် ကျင်းပခဲ့သည့် ကော်မရှင်၏၉/၂၀၁၆ကြိမ်မြောက် အစည်းအဝေးမှ ဆုံးဖြတ်ချက်(၁၂)ရပ်ချမှတ်ခဲ့ပြီး ကော်မရှင်ရုံးအဖွဲ့မှဆောင်ရွက်ရန်ရှိသည်များကို ဆောင်ရွက်ပြီးဖြစ်၍ အစည်းအဝေးမှတ်တမ်းနှင့်ပတ်သက်ပြီး

ကုမ္ပဏီ၏ မန်နေးဂျင်းဒါရိုက်တာ က ရင်းနှီးမြှုပ်နှံမည့် လုပ်ငန်းအခြေအနေများနှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို Power Point ဖြင့်ရှင်းလင်းတင်ပြပါသည်။

ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)စစ်ထောက်ချုပ်ရုံး လက်ထောက်စစ်ထောက်ချုပ် ဒုတိယဗိုလ်မှူးကြီး တိုးထွန်းမြင့်က စစ်ထောက်ချုပ်ရုံးပိုင် မြေအားငှားရမ်း ဆောင်ရွက် နေသော ကုမ္ပဏီ ၉ ခုထဲမှတစ်ခုဖြစ်ကြောင်း၊ ပေလီ ကမ်းခြေရှိ တပ်ပိုင်မြေဧရိယာ (၅.၅၄)ဧကကို ငှားရမ်း ဆောင်ရွက်ခဲ့ပြီး ယခုကနဦး ၅၀ နှစ်၊ တစ်ကြိမ်လျှင် ၁၀ နှစ် စီဖြင့်(၂)ကြိမ် သက်တမ်းတိုးလိုသဖြင့် တင်ပြလာခြင်းဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဒုတိယဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဌေးအောင်က မြေငှားရမ်းခနှင့် မြေအသုံးချခတို့အားမေးမြန်းရာ ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)စစ်ထောက်ချုပ်ရုံးမှ တာဝန်ရှိသူက မြေအသုံးချမှု ပရီမီယံ ကြေးမှာ ၁ဧကလျှင် ကျပ် ၂၅၀၀ သိန်းနှုန်း ဖြင့် စုစုပေါင်း ကျပ် ၁၃၈၅သန်း ဖြစ်ပြီး မြေငှားရမ်းခအဖြစ် တစ်နှစ်အတွက် ငွေကျပ် ၂၂၇ သိန်း နှင့် အမေရိကန်ဒေါ်လာ (သို့) အက်ဖ်အီးစီ နှစ်မျိုးလုံး ပေးသွင်းရမည်ဖြစ်ကြောင်း၊ သီးခြားတင်ပြရန်မရှိပါကြောင်း ရှင်းလင်းပြောကြားပါသည်။

ဆက်လက်၍ ကော်မရှင် ဒုတိယဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဌေးအောင်က အဆိုပြုPlanတွင် အဆောက်အဦး အမြင့်မှာ ၃ ထပ်ဖြစ်သောကြောင့် ပေ(၃၀)ကန့်သတ်ချက်ထက် ကျော်နိုင်သဖြင့် အဆောက်အဦမဆောက်လုပ်မီ ပြန်လည်တွက်ချက်ကြည့်ရန်လိုကြောင်း၊ မဆောက်လုပ်မီ Foundation ချရန် ကန်ထရိုက် နှင့် အင်ဂျင်နီယာအား တာဝန်ပေးစဉ်ကတည်းက သတ်မှတ်ချက် အမြင့်မကျော်စေရန် ညှိနှိုင်းဆောင်ရွက်စေလိုကြောင်း၊ သစ်ပင်များချန်ထားခြင်းမှာလည်း ကောင်းမွန် ပါကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်အစည်းအဝေးမှ Htoo Trading Co., Ltd.မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(VT-၄၀)၊ မြေဧရိယာ ၆၃.၀၅ ဧကအနက် မြေဧရိယာ ၅.၅၄ ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

၁၅။ **Adventure Myanmar Tours & Incentives Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေဧရိယာ (၁၁.၆၆၃)ဧကအနက်မှ မြေဧရိယာ(၄.၉၈)ဧက တွင် Hotel, Service Apartment, Office Tower, Apartment ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက် ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက အမှာစာပါ အကြောင်းအရာအား ဖော်ပြလျှက် အဓိကအချက်များကို ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ မန်နေးဂျင်းဒါရိုက်တာ ဦးအောင်မျိုးမင်းဒင်က ရင်းနှီးမြှုပ်နှံမည့် လုပ်ငန်း အခြေအနေများနှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို Power Point ဖြင့်ရှင်းလင်းတင်ပြပါသည်။

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ ညှိနှိုင်းဆောင်ရွက်ရေးအဖွဲ့ ဌာနမှူး ဦးစိုးလွင်က Thu Kha Yadanar Co., Ltd. နှင့်Adventure Myanmar Tours & Incentives Co., Ltd. အား မိမိတို့ဌာနနှင့် ရန်ကုန်တိုင်းအစိုးရဝန်ကြီးရုံးတို့ ပူးပေါင်း၍ ၂ ကြိမ်သွားရောက်စစ်ဆေးပြီးပါကြောင်း၊ လုပ်ငန်း၂ခုပေါင်း ၏ Master Planအားမိမိတို့ဌာနသို့ တင်ပြပြီးဖြစ်ကြောင်း၊နှစ်ခုပေါင်းပြီးMaster Plan တွင် အမြင့်ပေ မှာ 15meter ရှိသောကြောင့် နှစ်ခုလုံးမှာ ၁၂ထပ်ကျော်၍ဆောက်လုပ်၍မရပါကြောင်း၊ ရွှေတိဂုံစေတီတော် ကန့်သတ် ဧရိယာ အတွင်း၌ တည်ရှိသောကြောင့် အမြင့်ပေမှာ သတ်မှတ်ပင်လယ်ရေ မျက်နှာပြင် အထက်အမြင့် ၁၉၀ ပေ ထက်ကျော်လွန်၍မရပါကြောင်း၊ မီးရထားလမ်းတိုးချဲ့လာနိုင်သည့်အတွက် မီးရထားလမ်း နှင့် အနည်းဆုံး ၆၆ပေ ခွာထားရမည်ဖြစ်ကြောင်း၊ မီးသတ်ပတ်လမ်း အား ကုမ္ပဏီနှစ်ခုလုံး စာပေါင်း၍ ပေ (၄၀)တောင်းထားပါကြောင်း၊ လမ်းနဲ့အနည်းဆုံး ၆ပေ နှင့် ၁၂ပေကွာရမည်ဖြစ်ပြီး အဆောက်အဦ နှစ်ခုကြားတွင် ခန့်မှန်းပေ (၆၀)ခန့်ကွာပါကြောင်း၊ Thu Kha Yadanar Co., Ltd. က ကားစီးရေ ၇၄၆စီး နှင့် Adventure Myanmar Tours & Incentives Co., Ltd. ၆၉၆စီး တင်ပြထားပြီး ကားအစီးရေသတ်မှတ်ချက်ကိုက်ညီမှုရှိပါကြောင်း၊ သတ်မှတ် Ratio များ ကိုက်ညီမှုရှိပါကြောင်း နှင့် လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီမှု ရှိပါကြောင်း၊ လိုအပ်သော ကားစီးရေမှာ ၅၃၂ စီး ကားစီးရေ လုံလောက်မှုရှိပြီး FAR ၃.၈၇ ၊ BCR ၀.၄၉ ဖြစ်ကြောင်း တွေ့ရှိရပါကြောင်း၊ ပတ်လမ်းများတောင်းထားသောကြောင့် ခရေပင်လမ်းကြောင်းသုံးနေရာမှ ထွက်လို့ရပြီး မင်းရဲကျော်စွာလမ်းဘက်ကို တစ်နေရာထွက်၍ ရသဖြင့် ကားအစီးရေ ၇၀၀ အတွက် လုံလောက်မှုရှိပါကြောင်း၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ ဥပဒေအရနှင့် ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီမှရေစီးရေလာနှင့် အမှိုက်စွန့်ပစ်မှုများအားလုံးကို စစ်ဆေးပြီးလျှင် မြို့တော်ဝန် အစည်းအဝေးသို့တင်ပြမည်ဖြစ်ကြောင်း၊ သို့ဖြစ်ပါ၍ ဒဂုံစီးတီးကို အစားပြန်ပေးသည့် ကိစ္စများ ပြီးပြတ်ပြီဖြစ်ကြောင်း ရှင်းလင်းပြောကြားပါသည်။

ကော်မရှင်ဒုတိယဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဒွေးအောင်က မင်းရဲကျော်စွာလမ်း ဝင်ပေါက်နှင့် ခရေပင်လမ်းဝင်ပေါက်အား ကုမ္ပဏီနှစ်ခု ခွဲဝေသုံးစွဲမှုကိုမေးမြန်းရာ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၏တာဝန်ရှိသူက နှစ်ဦးသဘောတူ မင်းရဲကျော်စွာလမ်း တစ်ပေါက် သာရှိ ပတ်လမ်းတောင်း၍ ပြန်လည်တင်ပြသော Master Plan တွင် ပြန်လည်ပြင်ဆင်ဖော်ပြထားကြောင်း Thu Kha Yadanar Co., Ltd. မှ ပထမတင်ပြထားသည်မှာ ၁၄ ထပ်ခွဲဖြစ်ကြောင်း၊ ယခု ၁၂ထပ်ခွဲသာခွင့်ပြု၍ မိမိတို့ဌာနသို့ ပြန်လည်ပြင်ဆင်တင်ပြရန်လိုကြောင်း ရှင်းလင်းတင်ပြပါသည်။

ဟိုတယ်နှင့်ခရီးသွားလာရေးညွှန်ကြားမှုဦးစီးဌာနညွှန်ကြားရေးမှူး ဦးမျိုးမြင့်က ရန်ကုန်တိုင်းတွင် ဟိုတယ်အလုံးပေါင်း ၃၃၂လုံး အခန်းပေါင်း၁၅၂၃၀ ခန့်ရှိကြောင်း၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရမှ တင်ပြခဲ့သည့်အတိုင်း လက်ရှိရေကြောင်း၊ လေကြောင်းလမ်းသင့်သော ရန်ကုန်မြို့သည်ပြည်ပ ခရီးသည် ရောက်ရှိမှု ပြည်တွင်းခရီးသည်တည်းခိုမှုနှင့် ဟိုတယ်တည်းခိုရိပ်သာ အရေအတွက်အချိုးသည် ညီရန်လို ကြောင်း၊ ၂၀၁၅တွင် လက်ရှိဧည့်သည် ပြည်တွင်း ပြည်ပပေါင်းပါက ဧည့်သည်ဝင်မှုမှာ ၈.၂ သန်းရှိပြီး တစ်ခန်း တစ်ယောက်ခွဲနှုန်းဖြင့်တွက်ပါက တစ်နေ့ အခန်းလိုအပ်ချက်မှာ တစ်သောင်းငါးထောင် ဝန်းကျင် ရှိကြောင်း၊ လိုအပ်ချက်နှင့် ပြည့်စုံနေသည့် အခြေအနေတွင်ရှိကြောင်း၊ လိုအပ်သည်ထက် ဟိုတယ်အရေ

အတွက်ပိုများလာပါက ပြိုင်ဆိုင်မှုတွင် ဝန်ဆောင်မှု အရည်အချင်းထက် ဈေးနှုန်းလျှော့ချခြင်းများ မလိုလားအပ်သည်များ ဖြစ်လာနိုင်ပါကြောင်း၊ ယခုကဲ့သို့ အဆင့်မီဆောက်မည်ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း၊ ကြယ်ငါးပွင့်ဟိုတယ်ဆောက်လုပ်မည်ဟုတင်ပြထားသဖြင့်မိမိတို့အနေဖြင့် သတ်မှတ်ချက်များ မရှိသော်လည်း ကြယ်ငါးပွင့်အဆင့်အတန်းနှင့် ကိုက်ညီအောင် ဆောင်ရွက်ရန် လိုကြောင်း၊ အဆိုပါ ဟိုတယ်မှာ ကြယ်ငါးပွင့်ဆိုသော်လည်း အဆိုပြုချက်တွင် ၃၄၀ခန်းတင်ပြထားသော်လည်း အထပ်လျှော့ ရသောကြောင့် ၂၉၄ ခန်းထိလျှော့ သွားပါကြောင်း၊ Executive Suite Room ၂ခန်း၊SuiteRoom၁၆ခန်း နှင့် Deluxe Room၂၇၆ခန်း သာရှိကြောင်း ၊ ယခုအခါတွင် မိမိတို့နိုင်ငံအနေဖြင့် Workshop များ Seminorများ ပြုလုပ်မှုများလာသောကြောင့် ဟိုတယ်အခန်းများတွင်သာ ဆောင်ရွက်၍ရအောင် ဆောင်ရွက်သင့်ပြီး နိုင်ငံသားပိုင်ဟိုတယ်တွင်အဆင့်မီသောအခန်းများနှင့် Banquet Hallများပါ ပြည့်စုံအောင် လုပ်၍ နိုင်ငံတကာအဆင့်မီအောင်ဆောင်ရွက်ရန် အကြံပြုလိုပါကြောင်း၊ ဝန်ထမ်းစုစုပေါင်းမှာ လုပ်ငန်း ဆောင်ရွက်ရန် တည်ဆောက်ရေးကာလတွင် ပြည်တွင်းမှ ဝန်ထမ်း(၄၆၇)ဦး နှင့် လုပ်ငန်း လည်ပတ်သော ကာလတွင် ဝန်ထမ်း(၅၆၉)ဦး ခန့်ထားမည်ဟု တင်ပြထားသဖြင့် ဟိုတယ်အတွက် သီးသန့် အရေအတွက်ကို ဖော်ပြထား ခြင်းမရှိကြောင်း၊ မိမိတို့သက်မှတ်ချက်မှာ တစ်ခန်း ကို ၁း၅ ဝန်ထမ်း အချိုးဖြစ်ကြောင်း၊ ဝန်ထမ်းအားလုံးသင်တန်းဆင်းဖြစ်ရန်လိုအပ်ကြောင်း၊ ကားပါကင် ၂၃၀စီး ဟု တင်ပြထားသဖြင့် တင်ပြချက်အတိုင်း ပြည့်မီအောင်လုပ်ဆောင်ရန်လိုကြောင်း၊ အမှိုက်ရေဆိုးစွန့်ပစ်ခြင်း၊ အမှိုက်စွန့်ပစ်ခြင်းများအား စနစ်တကျဖြစ်စေရန် လိုအပ်ပါကြောင်း၊ ရန်ကုန်မြို့တွင် တည်ဆောက်ခွင့် ရသည်နှင့်အညီ နိုင်ငံခြားသားပိုင်ဟိုတယ်များနှင့်ယှဥ်နိုင်အောင်လုပ်ရန် အကြံပြုလိုကြောင်း ရှင်းလင်း ပြောကြားပါသည်။

ကော်မရှင်အဖွဲ့ဝင် ဦးဝင်းခိုင်က ကားထားရှိမှုကိုသိလိုကြောင်းနှင့် Basement Planသည် Podium Style ဟုတ်-မဟုတ် ၊ ဟိုတယ်နှစ်လုံးအကွာအဝေးနှင့် အဝင်အထွက်အပေါက်မည်မျှရှိသည် ကိုမေးမြန်းရာ ကုမ္ပဏီတာဝန်ရှိသူကBasement 1,2,3 ၌ ကားပါကင် ဧရိယာပါရှိခြင်း၊ Ground Floor တွင် ကားပါကင်ဧရိယာပါရှိမည်ဖြစ်ကြောင်းPodium Styleမဟုတ်ကြောင်း၊မြေအောက်၃ထပ်မှာ ၎င်းဟိုတယ်တစ်ခုတွင်သာဖြစ်ပြီး အခြားအဆောက်အဦများမှာ Basement ၂ ထပ်သာပါဝင်မည် ဖြစ်ကြောင်း၊ မိမိတို့အနေဖြင့်Basement ၂ထပ်သာ ဆောက်လုပ်လျှင်လည်းကားအစီးအရေအတွက်နှင့်လုံလောက်သော်လည်းနောင်တစ်ချိန်တွင် ရည်ရွယ်၍ ၃ထပ်ဆောက်လုပ်မည်ဖြစ်ကြောင်း၊ Thu Kha Yadanar Co., Ltd. တွင်Basement၂ထပ် ဟိုတယ်အောက်အဝင်အထွက်နေရာ ၄ နေရာ ပေးထားပါကြောင်းရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် ဦးညွန့်တင်က Hotel နှင့် Apartment တို့အတွက် Foreign Consultant ငှားရမ်း၍ဆောင်ရွက်ခြင်းရှိ-မရှိမေးမြန်းပြီး မိမိတို့ကိုယ်တိုင်လည်း ဦးစီးလုပ်ကိုင်ရန်လိုကြောင်း၊ အရေးကြီးသည်မှာ Energy Conservation အတွက် Light System တွင် LED ကိုသာသုံးသင့်ကြောင်း၊ Environment Conservation အနေဖြင့် Greening သို့သွားနိုင်ရန် အကြံပြုလိုကြောင်း၊ စံပြအနေနှင့်ပြုလုပ်နိုင်ပါက ပိုမိုကောင်းမွန်မည်ဖြစ်ကြောင်း၊ ပလပ်စတစ် အသုံးပြုမှုအား လျှော့ချရန်လိုကြောင်း၊ ယခုအဆိုပြုကုမ္ပဏီမှ ရေဘူးထားရှိမည့်အစား ဖန်များကိုအသုံးပြုခြင်းဖြင့် introduce လုပ်ပေးစေလိုကြောင်း၊ ဖန်ကိုအသုံးပြုရာတွင် စက်ဖြင့်ဆေးလျှင် ပို၍ကောင်းမွန်

ကြောင်း၊ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဖြစ်သည့်အတွက် ကြိုဆိုပါကြောင်း ဆွေးနွေးပြောကြားရာ ကုမ္ပဏီ၏တာဝန်ရှိသူက Light System တွင် LED ကိုသာသုံးကြောင်း၊ ပြူတင်းပေါက်များ ကိုလည်းအပြည့်ထားရှိပါကြောင်း၊ Greening အတွက် မြေအောက်တွင်ပါ ဆောက်လုပ်မည်ဖြစ် သောကြောင့် Survey လုပ်စဉ်ကတည်းက သစ်ပင်ကြီးများနှင့် လွတ်အောင် ဆောင်ရွက်ထားပါ ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဒုတိယဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဌေးအောင်က အချိန်အကြာကြီး မယူစေ လိုကြောင်း၊အချိန်ဆွဲလျှင်ဆွဲထားသလောက် ပြဿနာဖိတ်ခေါ်သကဲ့သို့ဖြစ်ပြီး လုပ်ငန်းမခိုင်မြဲနိုင် ကြောင်း၊ တစ်နှစ်အတွင်းအကောင်အထည်ဖော်စေလိုကြောင်း၊ အခွင့်အရေးမှာ တစ်ခါသာရသည် ဖြစ်၍ မြန်မြန်အကောင်အထည်ဖော်၍ ဂရုတစိုက် ဆောင်ရွက်စေလိုကြောင်း ဆွေးနွေးပြောကြား ပါသည်။

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ တာဝန်ရှိသူက လုပ်ငန်းရပ်လုံး မပေါ်ခင် အရမ်းမကြော်ငြာရန်နှင့် အခန်းငှားခြင်း ရောင်းခြင်းများကိုလော၍မလုပ်ရန် မိမိအနေဖြင့် အကြံပြု လိုကြောင်း၊ ဒီဇိုင်းပိုင်းအား မိမိတို့ဌာနသို့တင်ပြပါက အမြန်ဆုံးဆောင်ရွက်ပေးမည်ဖြစ်ကြောင်း ရှင်း လင်းပြောကြားပါသည်။

ကော်မရှင်အစည်းအဝေးမှ Adventure Myanmar Tours & incentives Co., Ltd.မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂျွန်းအုပ်စု သိုလှောင်ရုံရှိ မြေ(၁၁.၆၆၃)ဧကအနက်မှ မြေ(၄.၉၈)ဧကတွင် Hotel, Service Apartment, Office Tower, Apartment ဝန်ဆောင်မှုလုပ်ငန်း အားဆောင်ရွက် ခွင့်ပြု ရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

၁၆။ **အေကေဆောက်လုပ်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်နှင့် မန္တလေးမြို့တော်စည်ပင် သာယာရေးကော်မတီတို့အကြား ဟိုတယ်လုပ်ငန်းဆောင် ရွက်ရန် B.O.T စနစ်ဖြင့် ငှားရမ်းထားသည့် မြေငှားစာချုပ်အား ပြင်ဆင် ချုပ်ဆိုခွင့်ပြုပါရန် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ တင်ပြလာခြင်းကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက ကုမ္ပဏီသည် ဟိုတယ် လုပ်ငန်းကို ဆောင်ရွက်လျှက်ရှိကြောင်း၊ ပထမအချက်အနေဖြင့် အေကေကုမ္ပဏီနှင့် မန္တလေးမြို့ တော်စည်ပင်သာယာရေးကော်မတီတို့အကြား ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန် BOT စနစ်ဖြင့် ငှား ရမ်းထားသည့် မြေငှားစာချုပ် သက်တမ်းအား နှစ် ၅၀ သတ်မှတ်ရန်၊ ဒုတိယက လက်ရှိ နှစ်စဉ် မြေငှားခ တစ်နှစ်လျှင် ကျပ်သိန်း ၅၀ ဖြစ်ပြီး ကျပ်သိန်း ၁၅၀၀ သို့ သတ်မှတ် ခွင့်ပြုပေးရန် တတိယ က နိုင်ငံတကာ အဆင့်မီ ကြယ်လေးပွင့်အဆင့်ရှိ ဟိုတယ် တည်ဆောက်ရန် အတွက် ကျပ်သိန်းပေါင်း ငါးသောင်း ထပ်မံ ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်ရန်အတွက်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ အေကေဆောက်လုပ်ရေးနှင့် စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် နှင့် မန္တလေး မြို့တော်စည်ပင်သာယာရေးကော်မတီတို့အကြား ဟိုတယ်လုပ်ငန်းဆောင် ရွက်ရန် B.O.T စနစ်ဖြင့် ငှားရမ်းထားသည့် မြေငှားစာချုပ်အား ပြင်ဆင် ချုပ်ဆိုခွင့်ပြုရန်ဆုံးဖြတ်ပါသည်။

| ဆုံးဖြတ်ချက်များ | | ဆောင်ရွက်ရန် |
|---|---|---|
| | အဆိုပြုချက်တင်ပြလာခြင်းကိုစွာအား ဆောင်ရွက် ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်နှင့် ဆိပ်ခံတံတားတည်ဆောက်ခြင်းအတွက် ပို့ဆောင် ရေးဝန်ကြီးဌာနမှ Integrated Plan တင်ပြရန်။ | |
| (ဈ) | Kyaw Htet Kyaw Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်တွင် စိုက်ပျိုးရေးအခြေခံ ဘက်စုံစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုဆိုင်ရာ လုပ်ငန်းများကို ဆောင်ရွက်ခွင့်ပြုရန်၊ ခွင့်ပြု မိန့်ထုတ်ပေးရန်နှင့် ပုဂ္ဂလိကအမည် ပေါက်နေသော မြေဧရိယာ ၂.၇၇၉ ဧက အတွက် မြေပိုင်ဆိုင်မှုကိစ္စကို ပြီးပြတ်အောင် ဆောင်ရွက်ရန် ။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ည) | Lighting Specialist Co., Ltd. မှ B.O.T စနစ်ဖြင့် မြေငှား ရမ်း၍ လက်ရှိ ကလေလာဟိုတယ်အား အဆင့်မြှင့် ပြန်လည် မွမ်းမံ ပြင်ဆင်ခြင်းနှင့် ဟိုတယ်အား ထပ်တိုးတည်ဆောက်၍ နိုင်ငံ တကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ဋ) | Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာတွင် BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ဌ) | Htoo Trading Co., Ltd.မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲ မြို့နယ်၊မြပြင်ကျေးရွာ၊ ကွင်းအမှတ်(VT-၄၀)၊ မြေဧရိယာ ၆၃.၀၅ ဧကအနက် မြေဧရိယာ ၅.၅၄ ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအားဆောင်ရွက် ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ဍ) | Adventure Myanmar Tours & incentives Co., Ltd.မှ ဆောက်လုပ်ရေး ဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဝှန်း အုပ်စု သိုလှောင်ရုံရှိ မြေ(၁၁.၆၆၃)ဧကအနက်မှ မြေ(၄.၉၈) ဧကတွင် Hotel, Service Apartment, Office Tower, Apartment ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |

၂၅။ အစည်းအဝေးကို မွန်းလွဲ ၁၇း၃၀ နာရီတွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ

(တင်အေးဟန်)

ညွှန်ကြားရေးမှူး

စာအမှတ်၊ ရက-၆/၁/အစည်းအဝေး/၂၀၁၆(၀၁၉၄ )

ရက်စွဲ ၊၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

ဖြန့်ဝေခြင်း

အစည်းအဝေးတက်ရောက်သူများအားလုံး

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် Adventure Myanmar Tours & Incentives Co., Ltd. မှ Hotel, Service Apartment, Office Tower, Apartment ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန် ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၉-၂-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၄-၃-၂၀၁၆ | ၁၃-၃ -၂၀၁၆ | |
| | ( ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၄-၃-၂၀၁၆ | ၂၉-၁ -၂၀၁၆ | |
| | ( ဂ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၄-၃-၂၀၁၆ | ၁၀-၃-၂၀၁၆ | |
| | (ဃ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန | ၄-၃-၂၀၁၆ | ၁၆-၃-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၀/၂၀၁၆)သို့ တင်ပြခြင်း | ၇-၃-၂၀၁၆ | ၁၆-၃-၂၀၁၆ | |
| ၄ | အဆိုပြုချက်လက်ခံကြောင်းပြန်ကြားခြင်းနှင့် အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၀ /၂၀၁၆)ဆုံးဖြတ်ချက်နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၁၆-၃-၂၀၁၆ | - | |
| ၅ | ကုမ္ပဏီမှ သဘောထားမှတ်ချက်များနှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၁၆-၃-၂၀၁၆ | - | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ(၈)စုံ ပေးပို့ခြင်း | | ၁၇-၃-၂၀၁၆ | |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ် နှင့်နေ့ရက် | | ၁၀/၂၀၁၆ | |
| | စုစုပေါင်းကြာမြင့်ရက် | (၁၈) ရက် | | |

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် Adventure Myanmar Tours & Incentives Co., Ltd. မှ Hotel, Service Apartment, Office Tower, Apartment ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့်စပ်လျဥ်းသည့် အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - | Adventure Myanmar Tours & Incentives Co., Ltd.<br>ဦးအောင်မျိုးမင်းဒင် |
| ၂ | အဖွဲ့အစည်းပုံသဏ္ဍာန် | - | လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။) |
| ၃ | လုပ်ငန်းအမျိုးအစား | - | Hotel, Service Apartment, Office Tower, Apartment ဝန်ဆောင်မှုလုပ်ငန်း |
| ၄ | တည်နေရာ | - | လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက် အမှတ် (၂၀-အေ၊၄၆-ဘီ)၊ မြေကွက်အမှတ်(၈-A/၁နှင့် ၂-A၂/၄) |
| ၅ | မြေအကျယ်အဝန်း | - | မြေဧရိယာ (၁၁.၆၆၃)ဧက အနက်မှ (၄.၉၈)ဧက |
| ၆ | မြေပိုင်ရှင် | - | ဆောက်လုပ်ရေးဝန်ကြီးဌာန |
| ၇ | နှစ်စဥ် မြေငှားရမ်းခြင်း | | US$ ၁,၁၂၇,၂၃၆ |
| ၈ | လုပ်ငန်းသက်တမ်း | - | ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် |
| ၉ | တည်ဆောက်ရေးကာလ | - | ၆ နှစ် |
| ၁၀ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | | **ကျပ် ၆၂၄၀၀.၀၀ သန်း** |

| | | |
|---|---|---|
| (က) | ငွေသား | ကျပ် ၃၂၅.၈၄ သန်း |
| (ခ) | စက်ပစ္စည်းတန်ဖိုး | ကျပ် ၈၀၉.၃၈ သန်း (US$ ၀.၆၇ သန်း ) |
| (ဂ) | အဆောက်အဦ | ကျပ် ၃၂၅၅၇.၀၀ သန်း (US$ ၁၂.၃၆သန်း အပါအဝင်) |
| (ဃ) | ဟိုတယ် လုပ်ငန်းသုံး ပစ္စည်းများ | ကျပ် ၄၇၄၀.၈၉ သန်း (US$ ၃.၉၅ သန်း) |
| (င) | မြေအသုံးပြုခွင့်တန်ဖိုး | ကျပ် ၁၁၉၅၂.၀၀ သန်း (US$ ၉.၉၆ သန်း) |
| (စ) | ဒီဇိုင်းတန်ဖိုး | ကျပ် ၃၀၀.၀၀ သန်း (US$ ၀.၂၅ သန်း) |
| (ဆ) | လျှပ်စစ်ပစ္စည်း | ကျပ် ၁၁၆၈၈.၄၉ သန်း (US$ ၉.၇၄ သန်း) |
| (ဇ) | Land Scaping | ကျပ် ၂၆.၄၀ သန်း |
| | **စုစုပေါင်းမတည်ငွေရင်း** | **ကျပ် ၆၂၄၀၀.၀၀ သန်း (US$ ၃၆.၉၄ သန်း အပါအဝင်)** |

| | | | |
|---|---|---|---|
| ၁၁ | ဝန်ထမ်းအင်အား<br>ပြည်တွင်း | - | ၅၆၉ ဦး (တစ်လလျှင် ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ ကျပ် ၇၅၀,၀၀၀ ဖြစ်ပါသည်။) |

**၁၂ ဝင်ငွေ ရရှိမှု အခြေအနေ (၆ နှစ် မြောက်တွင် ရရှိနိုင်မည့် အခြေအနေ)** -

Hotel

| စဉ် | အခန်း အမျိုးအစား | အခန်း အရေအတွက် | ဝန်ဆောင်ခနှုန်း (တစ်နေ့/ တစ်ခန်းလျှင်) | |
|---|---|---|---|---|
| | | | US$ | ကျပ် |
| (က) | Executive Suite | ၂ | ၂၇၀ | ၂၆၀,၀၀၀ |
| (ခ) | Suite | ၁၆ | ၁၇၀ | ၁၆၀,၀၀၀ |
| (ဂ) | Deluxe | ၂၇၆ | ၈၈ | ၈၈,၅၀၀ |

Service Apartment

| စဉ် | အခန်း အမျိုးအစား | အခန်း အရေအတွက် | ဝန်ဆောင်ခနှုန်း (တစ်လ/ တစ်ခန်းလျှင်) | |
|---|---|---|---|---|
| | | | US$ | ကျပ် |
| (က) | 2 Bed Room | ၅၂ | ၂,၃၀၀ | ၂,၃၀၀,၀၀၀ |
| (ခ) | Pent House | ၄ | ၂,၉၀၀ | ၂,၉၀၀,၀၀၀ |
| | | | | |

Office Tower

| စဉ် | အခန်း အမျိုးအစား | Gross Floor Area (sq-m) | Lease Rate (တစ်နှစ်/ တစ်စတုရန်းမီတာလျှင်/ကျပ်) |
|---|---|---|---|
| (က) | Office | ၇၄၀၉.၂ | ၂၄၅,၀၀၀ |

**၁၃ ဝင်ငွေ**
ကျပ် ၁၁၃၇၁.၄၉ သန်း

**အသုံးစရိတ်**
ကျပ် ၇၀၄၅.၅၁ သန်း

**အသားတင်အမြတ်**
ကျပ် ၄၃၂၅.၉၈ သန်း

**၁၄ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (၆နှစ်မြောက်)**
ဝင်ငွေခွန် - ကျပ် ၁၄၄၁.၉၉ သန်း
ကုန်သွယ်လုပ်ငန်းခွန် - ကျပ် ၁၇၉.၆၉ သန်း၊ အမေရိကန်ဒေါ်လာ ၀.၃၂ သန်း

**၁၅ အရင်းကြေကာလ** - ၆ နှစ်၊ ၄ လ

**၁၆ အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR)** - ၁၀.၀၄ %

**၁၇ လျှပ်စစ်ဓါတ်အားသုံးစွဲမှု** - ကိုယ်ပိုင် Generator 100/150/350/800/1500KVA ဖြင့် ထည့်သွင်းအသုံးပြုရန် စီစဉ်ထားပါသည်။

**၁၈ ငွေကြေးအထောက်အထား**

နိုင်ငံခြား ငွေကြေး အထောက်အထားအဖြစ် Adventure Myanmar Tours and Incentives Co., Ltd. အမည်ဖြင့် Myanma Foreign Trade Bank ၌ (၂၂-၁-၂၀၁၆)နေ့စွဲရှိ စာရင်းဖွင့် ငွေလက်ကျန် US$ ၂၃၀၂၀၅.၀၂ ရှိကြောင်း တင်ပြထားပါသည်။

ကျပ်ငွေ အထောက်အထားအဖြစ် ဒါရိုက်တာဖြစ်သူ ဒေါ်အေးအေးမြင့် အမည်ဖြင့် AYA Bank၌ စာရင်းဖွင့် ငွေလက်ကျန် ကျပ် ၅၁၁၁၈၇၂၇၈၅.၉၂ ရှိကြောင်း တင်ပြထားပါသည်။

| | | | |
|---|---|---|---|
| ၁၉ | စိစစ်တင်ပြချက် | - | (က) Phase I တွင် Basement (၃)ထပ် + (၁၀)ထပ် Hotel နှင့် Basement (၃)ထပ် + ၁၂ ထပ် Office+ Service Apartment(၁)လုံး တည်ဆောက်မည် ဖြစ်ပြီး Phase II တွင် Basement (၂)ထပ် + ၁၂ ထပ် Apartment(၃)လုံး တည်ဆောက်မည် ဖြစ်ပါသည်။<br>(ခ) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ သဘောထား ပြန်ကြားချက်မှာ ရွှေတိဂုံစေတီတော် ကန့်သတ် ဇရိယာအတွင်း၌ တည်ရှိပြီး သတ်မှတ်ပင်လယ်ရေ မျက်နှာပြင် အထက်အမြင့် ၁၉၀ ပေ ထက်ကျော်လွန်မှု မရှိခြင်း၊ ကားစီးရေ ကိုက်ညီမှု ရှိခြင်း၊ သတ်မှတ် Ratio များ ကိုက်ညီမှုရှိပါကြောင်း နှင့် လုပ်ထုံး လုပ်နည်းများနှင့် ကိုက်ညီမှု ရှိပါကြောင်း ပြန်ကြားထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၄/-၁၅၄၀ /၂၀၁၆( ၄၃၄ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ် လ ၁၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ Adventure Myanmar Tours & Incentives Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေဧရိယာ (၁၁.၆၆၃)ဧကအနက်မှ မြေဧရိယာ(၄.၉၈)ဧက တွင် Hotel, Service Apartment, Office Tower, Apartment ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက် ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

၁။ Adventure Myanmar Tours & Incentives Co., Ltd. မှ ဆောက်လုပ်ရေးဝန်ကြီး ဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ မြေတိုင်းရပ်ကွက် အမှတ် (၂၀-အေ၊၄၆-ဘီ)၊ မြေကွက်အမှတ်(၈-A/၁နှင့် ၂-A/၂/၄)ရှိ မြေဧရိယာ (၄.၉၈)ဧကတွင် Hotel, Service Apartment, Office Tower, Apartment ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်နိုင်ရန် အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်မျိုးမင်းဒင်မှ ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ် လ ၇ ရက် နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၀/၂၀၁၆)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် Adventure Myanmar Tours & Incentives Co., Ltd. တို့ အကြား ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထား မှတ်ချက် နှင့် အညီ B.O.T စနစ်ဖြင့် ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)အား တင်ပြထား ပါသည်။

၃။ ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့် Adventure Myanmar Tours & Incentives Co., Ltd. တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါ သည်-

(က) မြေငှားရမ်းခြင်း သက်တမ်းကာလမှာ စာချုပ်လက်မှတ်ထိုးသည့်နေ့မှ ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် ဖြစ်သည်။

(ခ) ငှားရမ်းခနှုန်းထားမှာ တစ်စတုရန်းမီတာလျှင် US$ ၁၅ နှုန်းဖြင့် စုစုပေါင်း ကြမ်းပြင် ဧရိယာ၏ ၆၅ % ကို ပြန်လည်ငှားရမ်းနိုင်သော ဧရိယာအဖြစ် သတ်မှတ်၍ ပေးချေရန် ဖြစ်ပါသည်။

တန်သတ်

(ဂ) မြေအသုံးချမှုပရီမီယံကြေးအဖြစ် တစ်ဧကလျှင် US$ ၂.၀၀ သန်းနှုန်းဖြင့် မြေဧရိယာ (၄.၉၈)ဧကအတွက် US$ ၉.၉၆ သန်းအား အောက်ပါအတိုင်း ၄ ကြိမ်ခွဲ၍ ပေးသွင်းရမည် ဖြစ်သည်-

(၁) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား စာချုပ်လက်မှတ်ရေးထိုးပြီး ၁၈ လနေ့ အတွင်း

(၂) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၈ လ အတွင်း

(၃) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၁၆ လ အတွင်း

(၄) မြေအသုံးချမှုပရီမီယံကြေး၏ ၂၅ % အား ပထမအရစ် ပေးချေသည့်နေ့မှ ၂၄ လ အတွင်း

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ စာချုပ်ပါ အချက်များအား ပြင်ဆင်ချုပ်ဆိုထားခြင်း ဖြစ်ကြောင်း ဆောက်လုပ်ရေးဝန်ကြီးဌာနမှ (၃-၃-၂၀၁၆) ရက်စွဲပါ စာဖြင့် တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စုသိုလှောင်ရုံရှိ မြေဧရိယာ(၁၁.၆၆၃)ဧက မြေနေရာ နှင့်စပ်လျဉ်း၍ ပြည်ထဲရေးဝန်ကြီးဌာနမှ အမိန့်ကြော်ငြာစာအမှတ် (၂၇၁/၂၀၁၆) (၂-၂-၂၀၁၆)ဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ အခမဲ့ လွှဲပြောင်းပေးပြီးဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး (၁၀)နှစ် နှစ်ကြိမ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၆)နှစ် ဖြစ်ပါသည်။

၇။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၃၆.၉၄ သန်း အပါအဝင် စုစုပေါင်း ကျပ် ၆၂၄၀၀.၀၀ သန်း ဖြစ်ပါသည်။ စက်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ဟိုတယ်ပစ္စည်းတန်ဖိုးများဖြစ်သည့် အမေရိကန်ဒေါ်လာ ၁၄.၃၆ သန်းဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) ငွေသား | ကျပ် | ၃၂၅.၈၄ သန်း |
| (ခ) စက်ပစ္စည်းတန်ဖိုး | ကျပ် | ၈၀၉.၃၈ သန်း (US$ ၀.၆၇ သန်း ) |
| (ဂ) အဆောက်အဦ | ကျပ် | ၃၂၅၅၇.၀၀ သန်း (US$ ၁၂.၃၆သန်း အပါအဝင်) |
| (ဃ) ဟိုတယ် လုပ်ငန်းသုံး ပစ္စည်းများ | ကျပ် | ၄၇၄၀.၈၉ သန်း (US$ ၃.၉၅ သန်း) |
| (င) မြေအသုံးပြုခွင့်တန်ဖိုး | ကျပ် | ၁၁၉၅၂.၀၀ သန်း (US$ ၉.၉၆ သန်း) |
| (စ) ဒီဇိုင်းတန်ဖိုး | ကျပ် | ၃၀၀.၀၀ သန်း (US$ ၀.၂၅ သန်း) |
| (ဆ) လျှပ်စစ်ပစ္စည်း | ကျပ် | ၁၁၆၈၈.၄၉ သန်း (US$ ၉.၇၄ သန်း) |
| (ဇ) Land Scaping | ကျပ် | ၂၆.၄၀ သန်း |
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၆၂၄၀၀.၀၀ သန်း (US$ ၃၆.၉၄ သန်း အပါအဝင်)** |

တန်သတ်

၈။ လုပ်ငန်းဆောင်ရွက်ရန် တည်ဆောက်ရေးကာလတွင် ပြည်တွင်းမှ ဝန်ထမ်း(၄၆၇)ဦး နှင့် လုပ်ငန်း လည်ပတ်သော ကာလတွင် ဝန်ထမ်း(၅၆၉)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၇၅၀,၀၀၀ ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်း၏ (၆)နှစ်မြောက်တွင် ဝန်ဆောင်မှု ပေးနိုင်မည့် အခြေအနေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

Hotel

| စဥ် | အခန်း အမျိုးအစား | အခန်း အရေ အတွက် | ဝန်ဆောင်ခနှုန်း (တစ်နေ့/ တစ်ခန်းလျှင်) | |
|---|---|---|---|---|
| | | | US$ | ကျပ် |
| (က) | Executive Suite | ၂ | ၂၇၀ | ၂၆၀,၀၀၀ |
| (ခ) | Suite | ၁၆ | ၁၇၀ | ၁၆၀,၀၀၀ |
| (ဂ) | Deluxe | ၂၇၆ | ၈၈ | ၈၈,၅၀၀ |

Service Apartment

| စဥ် | အခန်း အမျိုးအစား | အခန်း အရေ အတွက် | ဝန်ဆောင်ခနှုန်း (တစ်လ/ တစ်ခန်းလျှင်) | |
|---|---|---|---|---|
| | | | US$ | ကျပ် |
| (က) | 2 Bed Room | ၅၂ | ၂,၃၀၀ | ၂,၃၀၀,၀၀၀ |
| (ခ) | Pent House | ၄ | ၂,၉၀၀ | ၂,၉၀၀,၀၀၀ |

Office Tower

| အခန်း အမျိုးအစား | Gross Floor Area (sq-m) | Lease Rate (တစ်နှစ်/တစ်စတုရန်းမီတာလျှင်/ကျပ်) |
|---|---|---|
| Office | ၇၄၀၉.၂ | ၂၄၅,၀၀၀ |

၁၀။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဥ် | အကြောင်းအရာ | ကျပ်/(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၁၃၇၁.၄၉ |
| (ခ) | အသုံးစရိတ် | ၇၀၄၅.၅၁ |
| (ဂ) | အသားတင်အမြတ် | ၄၃၂၅.၉၈ |

တန်သက်

၁၁။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၇၉.၆၉ သန်း၊ အမေရိကန်ဒေါ်လာ ၀.၃၂ သန်း နှင့် ၀င်ငွေခွန် ကျပ် ၁၄၄၁.၉၉ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၆)နှစ်(၄)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၁၀.၀၄ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၂။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊

(၂) အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အားမှာ တည်ဆောက်ဆဲကာလတွင် (၆၀၀)ဦးနှင့် တည်ဆောက်ပြီးကာလတွင် (၅၆၉)ဦး၊ စုစုပေါင်း (၁၁၆၉)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊

(၃) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန် ဆောက်လုပ်ရေး၀န်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန်ဂွန်းအုပ်စု သိုလှောင်ရုံရှိ မြေဧရိယာ(၁၁.၆၆၃)ဧကအနက်မှ (၄.၉၈)ဧကအား တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ(၁၁၂၇၂၃၆)နှုန်း၊ (1 sqft=1.4 $, 1 sqm=15 $)နှုန်းဖြင့် ကနဦး ငှားရမ်းကာလ (၅၀) နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာ၀ပတ်၀န်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊

(၄) လုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာ၀ ပတ်၀န်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း၊

(၅) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှလည်း အဆိုပြုလျှောက်ထားသည့် မြေနေရာမှာ ရွှေတိဂုံစေတီတော်ကန့်သတ်ဧရိယာအတွင်း၌ တည်ရှိပြီး သတ်မှတ်ပင်လယ်ရေ မျက်နှာပြင်အထက်အမြင့်(၁၉၀)ပေ ထက် ကျော်လွန်မှု မရှိခြင်း၊ ကားအစီးရေ ကိုက်ညီမှုရှိခြင်း၊ သတ်မှတ် Ratio များ ကိုက်ညီမှုရှိသဖြင့် လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီမှုရှိပါကြောင်း ပြန်ကြားထားပါကြောင်း။

(၆) အထက်ဖော်ပြပါအချက်များကြောင့် (၁၁-၃-၂၀၁၆) ရက်နေ့တွင် ကျင်းပ ပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၂၃)အရ Adventure Myanmar Tours & Incentives Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံ တင်ပြအပ်ပါကြောင်း၊

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် စုစုပေါင်း အမြတ်ငွေ၏ (၂ %) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ် များနှင့် လုပ်ငန်း စီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက် သွားရန်။

(၂) စီမံကိန်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း အကောင်အထည် မဖော်မီ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ဆောင်ရွက်ရန် ။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**( ကုမ္ပဏီမှ အထက်ပါ သဘောထား ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာတို့အား Myanmar Statistical Association မှ ရေးဆွဲလျက်ရှိပြီး ၃ လအတွင်း ကော်မရှင်သို့ ဆက်လက်ပေးပို့မည်ဖြစ်ပါကြောင်း ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်နေ့တွင် တင်ပြထားပါသည်။)**

ကန့်သတ်

